# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့် ပြု မိန့်

မနသ - ၂
၂၀၇၁
၈.၂.၂၀၁၀

ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၇၃၂................/၂၀၁၀ ။ ၂၀၁၀ ခုနှစ်၊ ဖေဖော်ဝါရီ လ ၈ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ........ ဦးအောင်ဇော်နိုင်

(ခ) အဘ အမည် ........ ဦးအိုက်ထွန်း

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ........ ၁၂ /လမတ(နိုင်) ၀၂၅၇၅၈

(ဃ) နေရပ်လိပ်စာ ........ ဒုတိယထပ်၊ အိုလံပစ်တာဝါ၊ ကမ်းနားလမ်း၊ အလုံမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ........ ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီ လီမိတက် (Shwe Taung Development Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ........ BOT စနစ်ဖြင့် လမ်းပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတားအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ........ စစ်ကိုင်း – မုံရွာလမ်းအပိုင်း (မြင်းမူမြို့ရှောင်လမ်း အပါအဝင် စုစုပေါင်း ၇၃ မိုင် ၊ ၃ ဖာလုံ)

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ........ ၂၆၈၂၂.၄၉ (သန်း) (အမေရိကန်ဒေါ်လာ ၂၄.၀၀ သန်း အပါအဝင် ကျပ် နှစ်သောင်း၊ ကိုးထောင်၊ ရှစ်ရာ၊ နှစ်ဆယ့်နှစ်သန်းနှင့် လေးသိန်း၊ ကိုးသောင်း)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၈ /၂၀၁၀ (မနသ)

နေပြည်တော်၊ ၁၃၇၁ ခုနှစ်၊ တပို့တွဲလပြည့်ကျော် ၁၀ ရက်

(၂၀၁၀ ခုနှစ် ၊ ဖေဖော်ဝါရီလ ၈ ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော ရွှေတောင် ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက်(Shwe Taung Development Co., Ltd.) မှ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်းပိုင် စစ်ကိုင်း - မုံရွာလမ်း အပိုင်း [(စစ်ကိုင်း - မုံရွာ အပိုင်း မိုင်တိုင် ၁၂/၃ မှ ၈၄/၁ ထိ ၇၁ မိုင် ၆ ဖာလုံ) ၊ ( မြင်းမူမြို့ ရှောင်လမ်း မိုင်တိုင် ၀/၀ မှ ၁/၅ ထိ ၁ မိုင် ၅ ဖာလုံ) စုစုပေါင်း ၇၃ မိုင်၊၃ ဖာလုံ ]အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ကို မြန်မာ နိုင်ငံသား များ ရင်းနှီး မြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက် ခွင့် အဆိုပြုချက် အား(၁-၁၂-၂၀၀၉)နေ့ တွင်ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ (၄၂/၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ စိစစ်ခဲ့ပြီး (၂၂-၁၂-၂၀၀၉) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ ၏ (၄၃/၂၀၀၉) အစည်းအဝေး သို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေးသဘောတူ ညီချက်အရ(၂၇-၁-၂၀၁၀) နေ့တွင် ကျင်းပသော ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၄/၂၀၁၀)အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် (Shwe Taung Development Co., Ltd.) အား စစ်ကိုင်း - မုံရွာလမ်း အပိုင်း [ မြင်းမူမြို့ ရှောင်လမ်း အပါအဝင် စုစုပေါင်း ၇၃ မိုင် ၊ ၃ ဖာလုံ]အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံ ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၇၃၂ /၂၀၁၀ ကို ထုတ်ပေးလိုက် သည်။

၂။ ရွှေတောင် ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် (Shwe Taung Development Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသား များရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သော နှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။ ဥပဒေပုဒ်မ ၁၃ မှ လုပ်ငန်း နှင့် သက်ဆိုင်သည့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ ခံစားလိုပါက ဤကော်မရှင် သို့ လျှောက်ထားနိုင်သည်။

၃။ ရွှေတောင် ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် (Shwe Taung Development Co., Ltd.) သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ဝန်ဆောင်မှု ရည်မှန်းချက်များ ကို အနိမ့်ဆုံးရည်မှန်းချက်များ အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၄။ ရွှေတောင် ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် (Shwe Taung Development Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၅။ ရွှေတောင် ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် (Shwe Taung Development Co., Ltd.) သည် စစ်ကိုင်း - မုံရွာလမ်း အပိုင်းအား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ် ရာတွင် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း နှင့် ချုပ်ဆိုမည့် BOT ပဋိညာဉ် စာချုပ်ပါ သတ်မှတ်ချက် စည်းမျဉ်း စည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရ မည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းနှင့် ရွှေတောင် ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် (Shwe Taung Development Co., Ltd.) တို့ ချုပ်ဆိုမည့် စစ်ကိုင်း - မုံရွာလမ်း အပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လုပ်ငန်း လုပ်ကိုင်ရေး ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုးပြီးသည့် အခါ ယင်းသဘောတူ စာချုပ် မိတ္တူ (၅)စောင် ကို ဤကော်မရှင် သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၇။ ရွှေတောင် ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် (Shwe Taung Development Co., Ltd.) ၏ စစ်ကိုင်း - မုံရွာလမ်း အပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း သက်တမ်းမှာ နှစ်(၄၀) ဖြစ်သည်။ လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (၃)နှစ် အထိ ဆောင်ရွက် ပြီးစီးသည့်နေ့ သို့မဟုတ် လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ် အနက် စောရာ နေ့ရက်ကာလမှ စတင် သတ်မှတ်ရမည် ။

၈။ လမ်း၊ တံတား အသုံးပြုခ ရငွေ အပေါ် ခွင့်ပြုကာလ အပိုင်းအခြား အလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည်။

| | | |
|---|---|---|
| (က) | ပထမ (၃)နှစ် အတွက် | - ကင်းလွတ်ခွင့်ကာလ |
| (ခ) | (၄)နှစ်မြောက်မှ(၁၃)နှစ်မြောက်အထိ (၁၀)နှစ် | - ၅% ပေးသွင်းရန် |
| (ဂ) | (၁၄)နှစ်မြောက်မှ(၂၃)နှစ်မြောက်အထိ(၁၀)နှစ် | - ၁၀% ပေးသွင်းရန် |
| (ဃ) | (၂၄)နှစ်မြောက်မှ(၃၃)နှစ်မြောက်အထိ(၁၀)နှစ် | - ၁၅% ပေးသွင်းရန် |
| (င) | (၃၄)နှစ်မြောက်မှ(၄၀)နှစ်မြောက်အထိ(၇)နှစ် | - ၂၀% ပေးသွင်းရန် |

၉။ လုပ်ငန်း လုပ်ကိုင် ခွင့်ပြုသည့်ကာလများ ပြီးဆုံးပါက အဆိုပါ လမ်းနှင့် တံတား များ၊ ဂိတ်များနှင့် အဆောက်အဦများကို ဆောက်လုပ် ပြီးစီးချိန်က ရှိနေသော ကောင်းမွန် သည့် အနေအထားအတိုင်း ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာ မပါရှိဘဲ လွှဲပြောင်းပေးရမည်။

၁၀။ ရွှေတောင် ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် (Shwe Taung Development Co., Ltd.) မှ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၁။ ရွှေတောင် ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် (Shwe Taung Development Co., Ltd.) သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု ၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေ ကို ဤ ကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၂။ ရွှေတောင် ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် (Shwe Taung Development Co., Ltd.) သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤ ခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည် ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် ( ဧပြီ / အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန်ပေးပို့အစီရင်ခံရမည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် လမ်းအရှည်မိုင် နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၄။ ရွှေတောင် ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် (Shwe Taung Development Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာဝန်ကြီး ဌာနများမှ ချမှတ်ထား သော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေး တွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၅။ ရွှေတောင် ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် (Shwe Taung Development Co., Ltd.) သည် အဆိုပြုလမ်း အပိုင်း တရားဝင် ဖွင့်လှစ်သည့် နေ့ရက် နှင့် စီးပွားဖြစ် စတင်ဆောင်ရွက် သည့် နေ့ရက် တို့ကို ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၆။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေးတွေ့ရှိလျှင် လုပ်ငန်း ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူ သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

(ပိုလ်မှူးချုပ်မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက- ၆(က) /မ-၁၀၂၀/၂၀၁၀( ၂၀ ၇ ၁ )

ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဖေဖော်ဝါရီ လ ၇ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။

၃။ အစိုးရ အဖွဲ့ရုံး။

၄။ စစ်ကိုင်းတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီရုံး ၊မုံရွာမြို့။

၅။ စာရင်းစစ်ချုပ်ရုံး။

၆။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။

၇။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၈။ အလုပ်သမား ဝန်ကြီးဌာန။

၉။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၁၀။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန။

၁၂။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

၁၃။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၁၄။ ပြည်ထဲရေးဝန်ကြီးဌာန။

၁၅။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့။(ပို့ဆောင်ရေး ဝန်ကြီးဌာန)

၁၆။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။

၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၆။ အုပ်ချုပ်မှုဒါရိုက်တာ၊ ရွှေတောင် ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် (Shwe Taung Development Co., Ltd.)

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရကက-၆(ခ)/မ-လမ်း/၂၀၁၀ (၁၀၄၄)
ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဇန်နဝါရီလ ၂၁ ရက်။

## ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ ။ စစ်ကိုင်း-မုံရွာ လမ်းအပိုင်း၊ အုန်းတော-ရွှေဘိုလမ်းအပိုင်းနှင့် ညောင်ဦး-မြင်းခြံလမ်းအပိုင်း တို့အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက်များ တင်ပြခြင်း ကိစ္စ။

၁။ အောက်ပါ လမ်းအပိုင်း(၃)ပိုင်းတို့အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကော်မရှင်ခွင့်ပြုမိန့်ရရှိရေးအတွက် ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်များ တင်ပြခဲ့ပါသည်။

| စဉ် | လုပ်ငန်းတည်နေရာ | လမ်းအရှည် မိုင် | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ဆောင်ရွက်သည့် ကုမ္ပဏီ |
|---|---|---|---|---|
| ၁။ | စစ်ကိုင်း-မုံရွာ | ၇၃ မိုင် ၃ ဖာလုံ | ကျပ် ၂၉၈၂၂.၄၉ သန်း (US$ ၂၄.၀၀ သန်း အပါအဝင်) | ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် |
| ၂။ | အုန်းတော-ရွှေဘို | ၄၃ မိုင် | ကျပ် ၂၃၇၅၇.၀၈ သန်း (US$ ၃.၈၄ သန်း အပါအဝင်) | ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် |
| ၃။ | ညောင်ဦး-မြင်းခြံ | ၄၀ မိုင် ၂ ဖာလုံ | ကျပ် ၅၉၇၀.၂၈ သန်း (US$ ၁.၂၈ သန်း အပါအဝင်) | မြတ်နိုးသူဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် |

၂။ အထက်ပါ လမ်းအပိုင်း (၃)ခုအား (၂၂-၁၂-၂၀၀၉) နေ့တွင်ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၄၃/၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ရာ BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ နောက်ဆက်တွဲ(က)

၃။ ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၄၃/၂၀၀၉) အစည်းအဝေးမှ သဘောတူသဖြင့် အဆိုပါ လမ်းအပိုင်း(၃)ခု၏ လုပ်ငန်းအဆိုပြုလွှာများအား အစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက်တင်ပြပေးပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တင်ပြလာပါသဖြင့် ဆက်လက်တင်ပြခြင်း ဖြစ်ပါသည်။

၄။ အဆိုပြုလမ်းအပိုင်းရှိ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ တည်ဆောက် ထားသည့် (၁၈၀) ပေ အထက် တံတားများအတွက် တံတားအသုံးပြုခ ကောက်ခံမှုများကို ကုမ္ပဏီများသို့ လေလံစနစ်ဖြင့် ဆောင်ရွက်စေပြီး၊ ကုမ္ပဏီမှ တည်ဆောက်ထားသည့် (၁၈၀) ပေ အထက် တံတားများ အတွက် တံတား အသုံးပြုခများကို ကုမ္ပဏီမှ ကောက်ခံခြင်းစနစ်ဖြင့် ဆောင်ရွက်ပါသည်။ လမ်းအပိုင်း အလိုက် (၁၈၀) ပေ အထက် တံတားကြီးများ တည်ဆောက်ထားမှု နှင့် အသုံးပြုခ ကောက်ခံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

အဆိုပြုလမ်းအပိုင်းများပေါ်ရှိ (၁၈၀)ပေ အထက်တံတားကြီးများ အသုံးပြုခကောက်ခံမှု

| **စဉ်** | **လမ်းအပိုင်း (ကုမ္ပဏီအမည်)** | **ဌာနမှ တည်ဆောက်သည့် တံတား (လေလံစနစ်ဖြင့် ဆောင်ရွက်ခြင်း)** | **မှတ်ချက်** |
|---|---|---|---|
| ၁။ | စစ်ကိုင်း-မုံရွာ (ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက်) | ညောင်ပင်ဝန်းတံတား (၆၀၀') | သာမန်တံတား နှုန်းဖြင့် ကောက်ခံရန်၊ |
| ၂။ | အုန်းတော-ရွှေဘို (ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက်) | သိမ်ချောင်းတံတား (၂၀၀') | တံတားအသုံး ပြုခ မကောက်ခံပါ |
| ၃။ | ညောင်ဦး-မြင်းခြံ (မြတ်နိုးသူဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်) | တံတားအမှတ်(၁/၂၈၀) (၃၀၀') | တံတားအသုံး ပြုခ မကောက်ခံပါ |

၅။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းနှင့် ကုမ္ပဏီတို့ ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ် (မူကြမ်း) များပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေးကာလ)မှာ (၃) နှစ် ဖြစ်ပါသည်။

(ခ) လုပ်ငန်း သက်တမ်း ကာလမှာ နှစ်(၄၀) ဖြစ်ပြီး လမ်း ဖောက်လုပ်သည့် လုပ်ငန်း ကာလ (၃)နှစ် အထိ ဆောင်ရွက် ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်း အပြီးသတ်

ဆောင်ရွက် ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ် အနက် စောရာ နေ့ ရက် ကာလ မှ စတင် သတ်မှတ်မည် ဖြစ်ပါသည်။

(ဂ) အဆိုပြုကုမ္ပဏီများမှ အောက်ပါလမ်းအသုံးပြုခနှုန်းများ အတိုင်း ကောက်ခံမည် ဖြစ်ပါသည်။

| စဉ် | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း (ကျပ်) |
|---|---|---|
| ၁။ | (၁)တန်အောက်ယာဉ်ငယ်များ | ၄ ကျပ် ၁၃ ပြား |
| ၂။ | (၁)တန်မှ(၃)တန်အထိယာဉ်များ | ၁၂ ကျပ် ၃၉ ပြား |
| ၃။ | (၅) တန်အောက်ကားကြီးများ | ၂၀ ကျပ် ၆၅ ပြား |
| ၄။ | (၁၀)တန်အောက်ကုန်တင်ယာဉ်ကြီး များ | ၄၁ ကျပ် ၃၀ ပြား |
| ၅။ | (၂၀)တန်အထိကုန်တင်ယာဉ်ကြီး များ | ၈၂ ကျပ် ၅၉ ပြား |
| ၆။ | (၂၀)တန်အထက်တန်ပို(၁)တန် လျှင် | ၈ ကျပ် ၂၆ ပြား |

(ဃ) တံတားအသုံးပြုခများကို ပေ (၁၈၀) နှင့် အထက် ရှည်သည့် တံတားများ အတွက် နိုင်ငံတော်မှ တည်ဆောက်ထားသော တံတားများအား လေလံစနစ်ဖြင့် လည်းကောင်း၊ ကုမ္ပဏီ၏ ရန်ပုံငွေ ဖြင့် တည်ဆောက်သော တံတားများ အတွက် ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်း နှင့် ကုမ္ပဏီတို့ ညှိနှိုင်း သဘောတူညီသည့် နှုန်းထားဖြင့် လည်းကောင်း ကောက်ခံရမည် ဖြစ်ပါသည်။

(င) လမ်း၊တံတားအသုံးပြုခရငွေအပေါ် ခွင့်ပြုကာလအပိုင်းအခြားအလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည် ဖြစ်ပါ သည်။

(၁) ပထမ (၃)နှစ် အတွက် ------ကင်းလွတ်ခွင့်ကာလ

(၂) (၄) နှစ်မြောက်မှ (၁၃)နှစ်မြောက်အထိ (၁၀)နှစ် ------၅% ပေးသွင်းရန်

(၃) (၁၄) နှစ်မြောက်မှ (၂၃)နှစ်မြောက်အထိ(၁၀)နှစ် ------၁၀% ပေးသွင်းရန်

(၄) (၂၄) နှစ်မြောက်မှ (၃၃)နှစ်မြောက်အထိ (၁၀)နှစ် ------၁၅% ပေးသွင်းရန်

(၅) (၃၄) နှစ်မြောက်မှ (၄၀)နှစ်မြောက်အထိ (၇)နှစ် ------၂၀%ပေးသွင်းရန်

(စ) လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသည် ဘဏ်အာမခံကြေးငွေ အဖြစ် စာချုပ် ချုပ်ဆိုပြီး (၃၀) ရက် အတွင်း ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ် ၏ (၁)ရာခိုင်နှုန်း နှင့် ညီမျှသော ငွေကို ထားရှိပေးရမည်။ ယင်းသက်တမ်းသည် စတင်ထုတ်ပေးသည့် နေ့မှ လုပ်ငန်း ပြီးဆုံးအောင် ဆောင်ရွက်သည် အထိ ဖြစ်သည်။ လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်းစတင်ရန် အကြောင်းကြားစာရပြီး ရက် (၃၀) အတွင်း လုပ်ငန်းစတင်ရန် ပျက်ကွက်လျှင် သော်လည်းကောင်း၊ သတ်မှတ်ကာလအတွင်း လုပ်ငန်းကို ပြီးစီးအောင်ဆောင်ရွက် ရန် အပါအဝင် စာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန် ပျက်ကွက်ပါက ဘဏ်အာမခံငွေကို ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းမှ သိမ်းယူ ရမည်ဖြစ်သည်။ ဘဏ်အာမခံငွေကို လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးပြီး ရက်ပေါင်း (၃၀) အတွင်း လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသို့ ပြန်လည် ထုတ်ပေးရမည်။

(ဆ) အဆိုပြုကုမ္ပဏီများသည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံလုပ်ကိုင်ခွင့် မပြုရပါ။

(ဇ) လုပ်ငန်းစတင်သည့်နေ့သည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ (ဌာန) မှ လုပ်ငန်း စတင်ရန် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ (ကုမ္ပဏီ) သို့ အကြောင်းကြားသည့်နေ့ ဖြစ်သည်။

(ဈ) လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသည့် ကာလနှစ်(၄၀)သို့မဟုတ်နောက်ထပ်တိုးမြှင့် ကာလများ ပြီးဆုံးပါက အဆိုပါလမ်းနှင့် တံတားများ၊ ဂိတ်များနှင့် အဆောက်အဦများကို ဆောက်လုပ်ပြီးစီးချိန်ကရှိနေသော ကောင်းမွန်သည့်အနေအထားအတိုင်း ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းသို့ အဖိုးစားနားတစ်စုံတစ်ရာမရှိဘဲ လွှဲပြောင်းပေးရမည် ဖြစ်ပါသည်။

၆။ လမ်းအပိုင်းအလိုက် လမ်းဖောက်လုပ်သည့် လုပ်ငန်း စတင်ဆောင်ရွက်ခွင့်ပြုသည့် နေ့ရက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | ကုမ္ပဏီအမည် | လမ်းအပိုင်း | လုပ်ငန်းစတင် ဆောင်ရွက်ခွင့်ပြုသည့်နေ့ |
|---|---|---|---|
| ၁။ | ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် | စစ်ကိုင်း-မုံရွာ | ၁-၄-၂၀၀၈ |
| ၂။ | ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် | အုန်းတော-ရွှေဘို | ၁-၄-၂၀၀၈ |
| ၃။ | မြတ်နိုးသူဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် | ညောင်ဦး-မြင်းခြံ | ၁၁-၁၂-၂၀၀၈ |

၇။ အဆိုပြု လမ်းအပိုင်း(၃)ပိုင်းအား ကုမ္ပဏီ(၂)ခုတို့မှ BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းနှင့် စပ်လျဉ်းသည့် စီးပွားရေးဆိုင်ရာ အသေးစိတ် အချက်အလက်များကို နောက်ဆက်တွဲ (ခ)မှ (ဃ) အထိ လည်းကောင်း၊ လုပ်ငန်း အဆိုပြုချက်များကို နောက်ဆက်တွဲ (င) မှ (ဆ)အထိ လည်းကောင်း ပူးတွဲ တင်ပြအပ်ပါသည်။

၈။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ကို လည်းကောင်း ၊ ပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

၉။ ဆောက်လုပ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် တင်ပြလာသည့် အောက်ပါလမ်းအပိုင်း (၃)ပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုရန် သဘောတူ - မတူ။

၁။

| | | | |
|---|---|---|---|
| (က) | စစ်ကိုင်း-မုံရွာ လမ်းအပိုင်း | (၇၃ မိုင် ၃ ဖာလုံ) | - ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် |
| (ခ) | အုန်းတော-ရွှေဘို လမ်းအပိုင်း | (၄၃ မိုင်) | - ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် |
| (ဂ) | ညောင်ဦး-မြင်းခြံ လမ်းအပိုင်း | (၄၀ မိုင် ၂ ဖာလုံ) | - မြတ်နိုးသူဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် |

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ထောက်ခံချက်

၁၀။ အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(ပိုလ်မှူးချုပ် မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊

ဝန်ကြီး၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့။

ပြည်ထောင်စုမြန်မာနိုင်ငံတော်

နောက်ဆက်တွဲ (က)

# ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၀၉ခုနှစ်၊ ဒီဇင်ဘာလ(၂၂)ရက်နေ့တွင် ,ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှု မူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၄၃/၂၀၀၉) မှတ်တမ်းကောက်နုတ်ချက်။

<table>
<tr><th>အစည်းအဝေးအစီအစဉ်</th><th>စဉ်</th><th>ဆုံးဖြတ်ချက်</th><th>ဆောင်ရွက်ရန်</th></tr>
<tr><td>၁၂-က</td><td>၇၇၀</td><td>ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် တင်ပြလာသည့် အောက်ပါလမ်းအပိုင်း (၃)ပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ပါသည်။
<table>
<tr><td>(က)</td><td>စစ်ကိုင်း-မုံရွာ လမ်းအပိုင်း</td><td>(၇၃ မိုင် ၃ ဖာလုံ)</td><td>ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက်</td></tr>
<tr><td>(ခ)</td><td>အုန်းတော-ရွှေဘို လမ်းအပိုင်း</td><td>(၄၃ မိုင်)</td><td>ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက်</td></tr>
<tr><td>(ဂ)</td><td>ညောင်ဦး-မြင်းခြံ လမ်းအပိုင်း</td><td>(၄၀ မိုင် ၂ ဖာလုံ)</td><td>မြတ်နိုးသူဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်</td></tr>
</table>
</td><td>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်။<br>ဆောက်လုပ်ရေး ဝန်ကြီးဌာန။</td></tr>
</table>

ပြည်ထောင်စုမြန်မာနိုင်ငံတော်
စာအမှတ်
ရက်စွဲ 24/12/2009
ကုန်သွယ်မှုမူဝါဒကောင်စီ



WWM/TTN 23-12-2009

နောက်ဆက်တွဲ (ခ)

**စစ်ကိုင်း-မုံရွာ လမ်းအပိုင်း (ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက်) အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက်<br>ကုမ္ပဏီ မှတ်ပုံတင် အမှတ်၊ ၂၆၃/၂၀၀၇-၂၀၀၈<br>(၃-၈-၂၀၀၇) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးအောင်ဇော်နိုင်(အုပ်ချုပ်မှုဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - စစ်ကိုင်း-မုံရွာ လမ်း အပိုင်း အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း တံတား အသုံးပြုခ ကောက်ခံ ခြင်း လုပ်ငန်း ။ |
| ၄။ | လုပ်ငန်းတည်နေရာ<br>(လမ်းအရှည်မိုင်) | - စစ်ကိုင်း-မုံရွာအပိုင်း (မိုင်တိုင် ၁၂/၃ မှ ၈၄/၁ ထိ)<br>၇၁ မိုင် ၆ ဖာလုံ<br>မြင်းမူမြို့ရှောင်လမ်း (မိုင်တိုင် ၀/၀ မှ ၁/၅ထိ)<br>၁မိုင် ၅ ဖာလုံ<br>စုစုပေါင်း (၇၃မိုင် ၃ ဖာလုံ ) |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>- ငွေပမာဏ<br>(ဆောက်လုပ်ရေးစရိတ်)<br>- အဆောက်အဦ<br>- စက်ပစ္စည်းကိရိယာများ<br>- လုပ်ငန်းသုံးမော်တော်ယာဉ်များ<br>- လုပ်ငန်းသုံးလောင်စာဆီနှင့် ချောဆီများ<br>- ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ | - ကျပ် ၂၉၈၂၂.၄၉ သန်း (US$ ၂၄.၀၀ သန်းအပါအဝင်)<br>၂၇၅၁.၈၇ (ဈေးငွေကျပ်သန်း၁၀၀၀အပါအဝင်)<br><br>၉၁၁.၂၂<br>၁၀၂၈.၉၁ (US$ ၅.၄၂ သန်းအပါအဝင်)<br>၁၇၂.၁၀<br>၁၁၁.၄၇ (US$ ၁၈.၅၈ သန်းအပါအဝင်)<br><br>၄၆.၉၂ |
| ၆။ | လမ်းတံတား အသုံးပြုခ ကောက်ခံမည့် ဂိတ်တည်နေရာ | အသွားခရီးအတွက်<br>- မိုင်တိုင်အမှတ် ၂၂/၀-၂ ကြား (ပင်မဓါတ်အားခွဲရုံဘေး)<br>အပြန်ခရီးအတွက်<br>မိုင်တိုင်အမှတ် ၇၇/၇ - ၇၈/၁ ကြား |

| | | |
|---|---|---|
| ၇။ | ဝင်ငွေ (အမြတ်စတင်ရရှိသည့် လုပ်ငန်းသက်တမ်း ၁၇ နှစ်မြောက် ဝင်ငွေအား ကောက်နုတ် တင်ပြထားခြင်းဖြစ်ပါသည်။) | - ကျပ် ၂၀၀၉.၅၂ သန်း |
| ၈။ | အသားတင်အမြတ် | ကျပ် ၄၉.၀၇ သန်း |
| ၉။ | အရင်းကြေကာလ | (၃၅) နှစ် |
| ၁၀။ | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | ၁.၄၂ % |
| ၁၁။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် | |
| | - ဝင်ငွေခွန် | ကျပ် ၂၁.၀၃ သန်း |
| | - လမ်းတံတားဖြတ်သန်းခ ရငွေ | ကျပ် ၂၀၀.၉၅ သန်း |
| ၁၂။ | လုပ်သားအင်အား (ပြည်တွင်း) | (၁၀၉) ဦး |
| ၁၃။ | ကတိဝန်ခံချက်များ | - နိုင်ငံတော် အစိုးရမှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက် များကို လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြု ထားပါသည်။ |
| ၁၄။ | အခွန်ကင်းလွတ်ခွင့်/ သက်သာခွင့် | - မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ၁၃ ပါ အခွန်အကောက် ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရပါမည်။ |

နောက်ဆက်တွဲ (ဂ)

**အုန်းတော-ရွှေဘိုလမ်းအပိုင်း(ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက်) အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် ကုမ္ပဏီ မှတ်ပုံတင် အမှတ်၊ ၂၆၃/၂၀၀၇-၂၀၀၈ (၃-၈-၂၀၀၇) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးအောင်ဇော်နိုင်(အုပ်ချုပ်မှုဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - အုန်းတော-ရွှေဘို လမ်းအပိုင်းအား B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍လမ်းတံတားအသုံးပြုခကောက်ခံခြင်း လုပ်ငန်း ။ |
| ၄။ | လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | - မန္တလေး-စစ်ကိုင်း-ရွှေဘိုလမ်း၏ အုန်းတော-ရွှေဘိုအပိုင်း မိုင်တိုင် ၂၇/၀ မှ ၇၀/၀ ထိ (၄၃ မိုင်) |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၂၃၇၅၇.၀၈ သန်း (US$ ၃.၈၄ သန်းအပါအဝင်) |
| | - ငွေပမာဏ (ဆောက်လုပ်ရေးစရိတ်) | ၂၂၉၇၅.၆၉ |
| | - အဆောက်အဦ | ၃၉၂.၈၂ |
| | - စက်ပစ္စည်းကိရိယာများ | ၂၈၈.၀၁ (US$ ၁.၄၄ သန်း) |
| | - လုပ်ငန်းသုံးမော်တော်ယာဉ်များ | ၇၆.၀၀ |
| | - လုပ်ငန်းသုံးလောင်စာဆီနှင့် ချောဆီများ | ၁၄.၄၃ (US$ ၂.၄၀ သန်း) |
| | - ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ | ၁၀.၁၃ |
| ၆။ | လမ်းတံတား အသုံးပြုခ ကောက်ခံမည့် ဂိတ်တည်နေရာ | - အသွား/အပြန် ခရီးအတွက် မိုင်တိုင်အမှတ်(၅၇/၆) |
| ၇။ | ဝင်ငွေ (အမြတ်စတင်ရရှိသည့် လုပ်ငန်းသက်တမ်း ၂၀ နှစ် မြောက် ဝင်ငွေအား ကောက်နုတ် တင်ပြထားခြင်းဖြစ်ပါသည်။) | - ကျပ် ၁၆၀၀.၈၂ သန်း |
| ၈။ | အသားတင်အမြတ် | ကျပ် ၅၁.၈၁ သန်း |

| | | |
|---|---|---|
| ၉။ | အရင်းကြေကာလ | (၃၇ ) နှစ် |
| ၁၀။ | အရင်းအနှီးအပေါ်အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | ၁.၀၁ % |
| ၁၁။ | နိုင်ငံတော်မှရရှိမည့်အကျိုး အမြတ် | |
| | - ဝင်ငွေခွန် | ကျပ် ၂၂.၂၁ သန်း |
| | - လမ်းတံတားဖြတ်သန်းခ ရငွေ | ကျပ် ၁၆၀.၀၈ သန်း |
| ၁၂။ | လုပ်သားအင်အား (ပြည်တွင်း) | (၉၁) ဦး |
| ၁၃။ | ကတိဝန်ခံချက်များ | - နိုင်ငံတော် အစိုးရမှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက် များကို လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြု ထားပါသည်။ |
| ၁၄။ | အခွန်ကင်းလွတ်ခွင့်/ သက်သာခွင့် | - မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် ၁၃ ပါ အခွန် အကောက် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ ကို ခံစားခွင့်ပြုရ ပါမည်။ |

နောက်ဆက်တွဲ (ဃ)

## ညောင်ဦး-မြင်းခြံလမ်းအပိုင်း (မြတ်နိုးသူဆောက်လုပ်ရေးကုမ္ပဏီလီမိတက်) အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - မြတ်နိုးသူဆောက်လုပ်ရေးကုမ္ပဏီလီမိတက်<br>ကုမ္ပဏီ မှတ်ပုံတင် အမှတ်၊ ၈၇၆/ ၂၀၀၈-၂၀၀၉<br>(၁၃-၁၀-၂၀၀၈) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးကျော်စိုးလွင်(အုပ်ချုပ်မှုဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ညောင်ဦး-မြင်းခြံလမ်းအပိုင်း အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ။ |
| ၄။ | လုပ်ငန်းတည်နေရာ<br>(လမ်းအရှည်မိုင်) | - ပုဂံ-ညောင်ဦး-မြင်းခြံလမ်း၏ ညောင်ဦး-မြင်းခြံ အပိုင်း (မိုင်တိုင် ၀/၀ မှ ၄၀/၂ ထိ)(၄၀ မိုင် ၂ ဖာလုံ) |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>- ငွေပမာဏ<br>(ဆောက်လုပ်ရေးစရိတ်)<br>- အဆောက်အဦ<br>- စက်ပစ္စည်းကိရိယာများ | - ကျပ် ၅၉၇၀.၂၈ သန်း (US$ ၁.၂၈ သန်းအပါအဝင်)<br>၅၃၇၂.၆၀<br><br>၅၉၀.၀၀<br>၇.၆၈ (US$ ၁.၂၈ သန်း) |
| ၆။ | လမ်းတံတား အသုံးပြုခ<br>ကောက်ခံမည့် ဂိတ်တည်နေရာ | - အသွားခရီးအတွက်<br>ညောင်ဦးဂိတ် မိုင်တိုင် ၂/၆<br>- အပြန်ခရီးအတွက်<br>မြင်းခြံဂိတ် မိုင်တိုင် ၃၈/၂ |
| ၇။ | ဝင်ငွေ (တည်ဆောက်ရေး ကာလ ပြီး လုပ်ငန်း သက်တမ်း ၇ နှစ် မြောက် ဝင်ငွေအား ကောက်နုတ် တင်ပြထားခြင်းဖြစ်ပါသည်။) | - ကျပ် ၄၄၈.၉၁ သန်း |
| ၈။ | အသားတင်အမြတ် | ကျပ် ၅၈.၉၄ သန်း |
| ၉။ | အရင်းကြေကာလ | (၂၆) နှစ် နှင့် (၇)လ |
| ၁၀။ | အရင်းအနှီးအပေါ်အကျိုး<br>အမြတ် ပြန်ပေါ်နှုန်း (IRR) | ၂.၆၂ % |

| | | |
|---|---|---|
| ၁၁။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ်<br>- ဝင်ငွေခွန်<br>- လမ်းတံတားဖြတ်သန်းခ ရငွေ | <br><br>ကျပ် ၂၅.၂၆ သန်း<br>ကျပ် ၂၂.၄၅ သန်း |
| ၁၂။ | လုပ်သားအင်အား (ပြည်တွင်း) | (၃၂) ဦး |
| ၁၃။ | ကတိဝန်ခံချက်များ | - နိုင်ငံတော် အစိုးရမှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက် များကို လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြု ထားပါသည်။ |
| ၁၄။ | အခွန်ကင်းလွတ်ခွင့်/သက်သာခွင့် | - မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် ၁၃ ပါ အခွန်အကောက်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ ကို ခံစားခွင့်ပြုရပါမည်။ |

ပြည်ထောင်စုမြန်မာနိုင်ငံတော်
**မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
ရုံးအမှတ်(၃၂)နေပြည်တော်

Fax: 95-67-406333 တယ်လီဖုန်း-၀၆၇-၄၀၆၁၃၉၊ ၄၀၆၁၆၁

စာအမှတ်၊ ရက- ၆(က)/ မ- ၁၀၂၀၊ ၁၀၂၆၊ ၁၀၅၂/၂၀၁၀( ၃၅၈ )
ရက်စွဲ၊ ၂၀၁၀ ခုနှစ် ၊ ဇန်နဝါရီ လ ၁၁ ရက်။

သို့/
ဝန်ကြီးရုံး
ဆောက်လုပ်ရေး ဝန်ကြီးဌာန

အကြောင်းအရာ။ ။စစ်ကိုင်း - မုံရွာ လမ်းအပိုင်း၊ အုန်းတော - ရွှေဘို လမ်းအပိုင်းနှင့် ညောင်ဦး-မြင်းခြံ လမ်းအပိုင်းတို့အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ။

ရည်ညွှန်းချက် ။ ။ ဆောက်လုပ်ရေး ဝန်ကြီးဌာန၏ -

(၁) (၁၁-၁၂-၂၀၀၉)ရက်စွဲပါစာအမှတ်၊ ၁/ ခွဲ-၂/ ထွေ/ ၂၀၀၉ (ကုမ္ပဏီ) (စီ ၉၄၅၁) (စစ်ကိုင်း - မုံရွာ) (ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု)

(၂) (၁၁-၁၂-၂၀၀၉)ရက်စွဲပါစာအမှတ်၊ ၁/ ခွဲ-၂/ ထွေ/ ၂၀၀၉ (ကုမ္ပဏီ) (စီ ၉၄၅၂) (အုန်းတော - ရွှေဘို) (ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု)

(၃) (၁၁-၁၂-၂၀၀၉)ရက်စွဲပါစာအမှတ်၊ ၁/ ခွဲ-၂/ ထွေ/ ၂၀၀၉ (ကုမ္ပဏီ) (စီ ၉၄၅၃) (ညောင်ဦး - မြင်းခြံ) (မြတ်နိုးသူ)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ ရည်ညွှန်းချက်ပါစာများဖြင့်တင်ပြခြင်းကို (၂၂-၁၂-၂၀၀၉)နေ့တွင် ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၄၃/ ၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့်တင်ပြလာသည့် အောက်ပါ လမ်းအပိုင်း (၃)ပိုင်းအား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ပါသည်။

(က) စစ်ကိုင်း - မုံရွာလမ်းအပိုင်း (၇၃ မိုင် ၃ ဖာလုံ) ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက်

(ခ) အုန်းတော - ရွှေဘိုလမ်းအပိုင်း (၄၃ မိုင်) ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက်

(ဂ) ညောင်ဦး - မြင်းခြံ လမ်းအပိုင်း (၄၀ မိုင် ၂ ဖာလုံ) မြတ်နိုးသူဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်

၃။ အထက်ပါအစည်းအဝေးဆုံးဖြတ်ချက်အား သိရှိနိုင်ပါရန်နှင့် အစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက် တင်ပြနိုင်ရန်အတွက် အဆိုပြုလွှာ (၁၅) စုံစီကို Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်းထားသော CD Copy နှင့်အတူ ဤကော်မရှင်သို့ ပေးပို့ပါရန် အကြောင်းကြားအပ်ပါသည်။

ဉက္ကာဋ္ဌ(ကိုယ်စား)
(ဗိုလ်မှူးကြီးသူရိန်ဇော်၊အတွင်းရေးမှူး)

မိတ္တူ -

(၁) ဦးဆောင်ညွှန်ကြားရေးမှူး၊
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။

(၂) ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှုကုမ္ပဏီလီမိတက်။

(၃) မြတ်နိုးသူဆောက်လုပ်ရေးကုမ္ပဏီလီမိတက်။

(၄) ရုံးလက်ခံ/ မျှောစာတွဲ။

# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက- ၆(ခ)/မ - လမ်း/ ၂၀၀၉(၂၁၈၆၄ )၊
ရက်စွဲ ၊ ၂၀၀၉ ခုနှစ် ၊ ဒီဇင်ဘာလ ၁၈ ရက်။

## ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ ။ စစ်ကိုင်း-မုံရွာ လမ်းအပိုင်း၊ အုန်းတော-ရွှေဘိုလမ်းအပိုင်းနှင့် ညောင်ဦး-မြင်းခြံလမ်းအပိုင်း တို့အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက်များ တင်ပြခြင်း ကိစ္စ။

၁။ အောက်ပါ လမ်းအပိုင်း(၃)ပိုင်းတို့အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ကော်မရှင် ခွင့်ပြုပမိန့်ရရှိရေးအတွက် ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်များ တင်ပြခဲ့ပါသည်။

| စဥ် | လုပ်ငန်းတည်နေရာ | လမ်းအရှည် မိုင် | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ဆောင်ရွက်သည့် ကုမ္ပဏီ |
|---|---|---|---|---|
| ၁။ | စစ်ကိုင်း-မုံရွာ | ၇၃ မိုင် ၃ ဖာလုံ | ကျပ် ၂၉၈၂၂.၄၉ သန်း (US$ ၂၄.၀၀ သန်း အပါအဝင်) | ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် |
| ၂။ | အုန်းတော-ရွှေဘို | ၄၃ မိုင် | ကျပ် ၂၃၇၅၇.၀၈ သန်း (US$ ၃.၈၄ သန်း အပါအဝင်) | ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် |
| ၃။ | ညောင်ဦး-မြင်းခြံ | ၄၀ မိုင် ၂ ဖာလုံ | ကျပ် ၅၉၇၀.၂၈ သန်း (US$ ၁.၂၈ သန်း အပါအဝင်) | မြတ်နိုးသူဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် |

၂။ ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၂၄/ ၂၀၀၉) (၂၉-၇-၂၀၀၉) အစည်းအဝေး လမ်းညွှန်ချက် နှင့်အညီ အဆိုပြုလမ်းအပိုင်း (၃)ပိုင်းတွင် လမ်းအသုံးပြုခနှုန်း၊ တံတားဖြတ်သန်းခ ကောက်ခံသည့် စနစ်နှင့် လုပ်ငန်းတစ်ဆင့်ခံ လုပ်ကိုင်ခြင်း ကိစ္စများကို ပဋိညာဉ်စာချုပ် (မူကြမ်း) များတွင်

ပြင်ဆင်တင်ပြထားပါသည်။ အဆိုပြုလမ်းအပိုင်းရှိ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှတည်ဆောက်ထားသည့် (၁၈၀) ပေ အထက် တံတားများအတွက် တံတားအသုံးပြုခ ကောက်ခံမှုများကို ကုမ္ပဏီများ သို့ လေလံစနစ်ဖြင့် ဆောင်ရွက်စေပြီး၊ ကုမ္ပဏီမှ တည်ဆောက်ထားသည့် (၁၈၀) ပေ အထက် တံတားများ အတွက် တံတား အသုံးပြုခများကို ကုမ္ပဏီမှ ကောက်ခံခြင်းစနစ်ဖြင့် ဆောင်ရွက်ပါသည်။ လမ်းအပိုင်း အလိုက် (၁၈၀) ပေ အထက် တံတားကြီးများ တည်ဆောက်ထားမှု နှင့် အသုံးပြုခကောက်ခံမှုအခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။ တံတားအသုံးပြုခ ကောက်ခံနှုန်းများကို နောက်ဆက်တွဲ(က) ဖြင့် တင်ပြအပ်ပါသည်။

အဆိုပြုလမ်းအပိုင်းများပေါ်ရှိ (၁၈၀)ပေ အထက်တံတားကြီးများ အသုံးပြုခကောက်ခံမှု

| စဥ် | လမ်းအပိုင်း (ကုမ္ပဏီအမည်) | ဌာနမှ တည်ဆောက်သည့် တံတား (လေလံစနစ်ဖြင့် ဆောင်ရွက်ခြင်း) | မှတ်ချက် |
|---|---|---|---|
| ၁။ | စစ်ကိုင်း-မုံရွာ (ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက်) | ညောင်ပင်ဝန်းတံတား (၆၀၀′) | သာမန်တံတား နှုန်းဖြင့် ကောက်ခံရန်၊ |
| ၂။ | အုန်းတော-ရွှေဘို (ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက်) | သိမ်ချောင်းတံတား (၂၀၀′) | တံတားအသုံး ပြုခ မကောက်ခံပါ |
| ၃။ | ညောင်ဦး-မြင်းခြံ (မြတ်နိုးသူဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်) | တံတားအမှတ်(၁/၂၈၀) (၃၀၀′) | တံတားအသုံး ပြုခ မကောက်ခံပါ |

၃။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းနှင့် ကုမ္ပဏီတို့ ချုပ်ဆိုမည့် ပဋိညာဥ်စာချုပ် (မူကြမ်း) များပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေးကာလ)မှာ (၃) နှစ် ဖြစ်ပါသည်။

(ခ) လုပ်ငန်း သက်တမ်း ကာလမှာ နှစ်(၄၀) ဖြစ်ပြီး လမ်း ဖောက်လုပ်သည့် လုပ်ငန်း ကာလ (၃)နှစ် အထိ ဆောင်ရွက် ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်း အပြီးသတ် ဆောင်ရွက် ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ် အနက် စောရာ နေ့ ရက် ကာလ မှ စတင် သတ်မှတ်မည် ဖြစ်ပါသည်။

(ဂ) အဆိုပြုကုမ္ပဏီများမှ အောက်ပါလမ်းအသုံးပြုခနှုန်းများ အတိုင်း ကောက်ခံမည် ဖြစ်ပါသည်။

| စဉ် | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း (ကျပ်) |
|---|---|---|
| ၁။ | (၁)တန်အောက်ယာဉ်ငယ်များ | ၄ ကျပ် ၁၃ ပြား |
| ၂။ | (၁)တန်မှ(၃)တန်အထိယာဉ်များ | ၁၂ ကျပ် ၃၉ ပြား |
| ၃။ | (၅) တန်အောက်ကားကြီးများ | ၂၀ ကျပ် ၆၅ ပြား |
| ၄။ | (၁၀)တန်အောက်ကုန်တင်ယာဉ်ကြီး များ | ၄၁ ကျပ် ၃၀ ပြား |
| ၅။ | (၂၀)တန်အထိကုန်တင်ယာဉ်ကြီး များ | ၈၂ ကျပ် ၅၉ ပြား |
| ၆။ | (၂၀)တန်အထက်တန်ပို(၁)တန် လျှင် | ၈ ကျပ် ၂၆ ပြား |

(ဃ) တံတားအသုံးပြုခများကို ပေ (၁၈၀) နှင့် အထက် ရှည်သည့် တံတားများ အတွက် နိုင်ငံတော်မှ တည်ဆောက်ထားသော တံတားများအား လေလံစနစ်ဖြင့် လည်းကောင်း၊ ကုမ္ပဏီ၏ ရန်ပုံငွေ ဖြင့် တည်ဆောက်သော တံတားများ အတွက် ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း နှင့် ကုမ္ပဏီတို့ ညှိနှိုင်း သဘောတူညီသည့် နှုန်းထားဖြင့် လည်းကောင်း ကောက်ခံရမည် ဖြစ်ပါသည်။

(င) လမ်း၊တံတားအသုံးပြုခရငွေအပေါ် ခွင့်ပြုကာလအပိုင်းအခြားအလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည် ဖြစ်ပါသည်။

(၁) ပထမ (၃)နှစ် အတွက် ------ကင်းလွတ်ခွင့်ကာလ

(၂) (၄) နှစ်မြောက်မှ (၁၃)နှစ်မြောက်အထိ (၁၀)နှစ် ------၅% ပေးသွင်းရန်

(၃) (၁၄) နှစ်မြောက်မှ (၂၃)နှစ်မြောက်အထိ(၁၀)နှစ် ------၁၀% ပေးသွင်းရန်

(၄) (၂၄) နှစ်မြောက်မှ (၃၃)နှစ်မြောက်အထိ (၁၀)နှစ် ------၁၅% ပေးသွင်းရန်

(၅) (၃၄) နှစ်မြောက်မှ (၄၀)နှစ်မြောက်အထိ (၇)နှစ် ------၂၀%ပေးသွင်းရန်

(စ) လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသည် ဘဏ်အာမခံကြေးငွေ အဖြစ် စာချုပ် ချုပ်ဆိုပြီး (၃၀)ရက် အတွင်း ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်၏ (၁)ရာခိုင်နှုန်းနှင့် ညီမျှသော ငွေကိုထားရှိပေးရမည်။ ယင်းသက်တမ်းသည် စတင်ထုတ်ပေးသည့်နေ့မှ လုပ်ငန်းပြီးဆုံးအောင် ဆောင်ရွက်သည် အထိ ဖြစ်သည်။ လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်းစတင်ရန် အကြောင်းကြားစာရပြီး ရက် (၃၀) အတွင်း လုပ်ငန်းစတင်ရန်

ပျက်ကွက်လျှင် သော်လည်းကောင်း၊ သတ်မှတ်ကာလအတွင်း လုပ်ငန်းကို ပြီးစီးအောင်ဆောင်ရွက် ရန် အပါအဝင် စာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန် ပျက်ကွက်ပါက ဘဏ်အာမခံငွေကို ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ သိမ်းယူရမည်ဖြစ်သည်။ ဘဏ်အာမခံငွေကို လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးပြီး ရက်ပေါင်း (၃၀) အတွင်း လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသို့ ပြန်လည် ထုတ်ပေးရမည်။

(ဆ) အဆိုပြုကုမ္ပဏီများသည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံလုပ်ကိုင်ခွင့် မပြုရပါ။

(ဇ) လုပ်ငန်းစတင်သည့်နေ့သည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ (ဌာန) မှ လုပ်ငန်း စတင်ရန် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ (ကုမ္ပဏီ) သို့ အကြောင်းကြားသည့်နေ့ ဖြစ်သည်။

(ဈ) လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသည့် ကာလနှစ်(၄၀)သို့မဟုတ်နောက်ထပ်တိုးမြှင့် ကာလများ ပြီးဆုံးပါက အဆိုပါလမ်းနှင့် တံတားများ၊ ဂိတ်များနှင့် အဆောက်အဦများကို ဆောက်လုပ်ပြီးစီးချိန်ကရှိနေသော ကောင်းမွန်သည့်အနေအထားအတိုင်း ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းသို့ အဖိုးစားနားတစ်စုံတစ်ရာမရှိဘဲ လွှဲပြောင်းပေးရမည် ဖြစ်ပါသည်။

၄။ လမ်းအပိုင်းအလိုက် လမ်းဖောက်လုပ်သည့် လုပ်ငန်း စတင်ဆောင်ရွက်ခွင့်ပြုသည့် နေ့ရက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | ကုမ္ပဏီအမည် | လမ်းအပိုင်း | လုပ်ငန်းစတင် ဆောင်ရွက်ခွင့်ပြုသည့်နေ့ |
|---|---|---|---|
| ၁။ | ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် | စစ်ကိုင်း-မုံရွာ | ၁-၄-၂၀၀၈ |
| ၂။ | ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် | အုန်းတော-ရွှေဘို | ၁-၄-၂၀၀၈ |
| ၃။ | မြတ်နိုးသူဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် | ညောင်ဦး-မြင်းခြံ | ၁၁-၁၂-၂၀၀၈ |

၅။ အထက်ပါလမ်းအပိုင်း(၃)ပိုင်းကို(၁-၁၂-၂၀၀၉)နေ့တွင်ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ( ၄၂/ ၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ရာ ကုန်သွယ်မှုမူဝါဒကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက် အရ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တင်ပြလာသည့် အတွက် ဆက်လက်တင်ပြခြင်းဖြစ်ပါသည်။

၆။ အဆိုပြု လမ်းအပိုင်း(၃)ပိုင်းအား ကုမ္ပဏီ(၂)ခုတို့မှ BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းနှင့် စပ်လျဉ်းသည့် စီးပွားရေးဆိုင်ရာ အသေးစိတ် အချက်အလက်များကို နောက်ဆက်တွဲ (ခ)မှ (ဃ) အထိ လည်းကောင်း၊ လုပ်ငန်း အဆိုပြုချက်များကို နောက်ဆက်တွဲ (င) မှ (ဆ)အထိ လည်းကောင်း ပူးတွဲ တင်ပြအပ်ပါသည်။

၇။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့နှင့်အညီ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

၈။ အောက်ဖော်ပြပါ လမ်းအပိုင်း (၃)ပိုင်း အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုရန် သဘောတူ - မတူ။

| | | | |
|---|---|---|---|
| (က) | စစ်ကိုင်း-မုံရွာ လမ်းအပိုင်း | (၇၃ မိုင် ၃ ဖာလုံ) | ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် |
| (ခ) | အုန်းတော-ရွှေဘို လမ်းအပိုင်း | (၄၃ မိုင်) | ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက် |
| (ဂ) | ညောင်ဦး-မြင်းခြံ လမ်းအပိုင်း | (၄၀ မိုင် ၂ ဖာလုံ) | မြတ်နိုးသူဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် |

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်

၉။ ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊
ဝန်ကြီး ၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊

ကုန်သွယ်မှု မူဝါဒ ကောင်စီ

နောက်ဆက်တွဲ(က)

## ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ၏ တံတား အသုံးပြုခနှုန်းထား
## (သာမန်တံတား)

| | | | |
|---|---|---|---|
| (က) | ဆိုင်ကယ်၊ မြင်းလှည်း၊ ထော်လာဂျီ | ၅ | ကျပ် |
| (ခ) | (၂)တန်အောက်ယာဉ်၊ အခြားယာဉ်များ၊ ကိုယ်ပိုင်ယာဉ်ငယ်များ | ၃၀ | ကျပ် |
| (ဂ) | ဟိုင်းလက်ခရီးသည်တင်ယာဉ် | ၄၀ | ကျပ် |
| (ဃ) | (၂)တန်အောက် ခရီးသည်တင်ယာဉ် | ၄၀ | ကျပ် |
| (င) | (၂)တန်မှ (၅)တန်အောက်ယာဉ် | ၆၀ | ကျပ် |
| (စ) | (၅)တန်နှင့် အထက် ခရီးသည်တင်ယာဉ် | ၁၀၀ | ကျပ် |
| (ဆ) | (၅)တန်နှင့်အထက် ယာဉ်ကြီး | ၁၅၀ | ကျပ် |
| (ဇ) | ထရပ်ကား (၂၀)တန်အထိ | ၁၅၀ | ကျပ် |

## ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ၏ တံတား အသုံးပြုခနှုန်းထား
## (စီမံကိန်းဝင်တံတား)

| | | | |
|---|---|---|---|
| (က) | စက်ဘီး | ၅ | ကျပ် |
| (ခ) | ဆိုင်ကယ်၊ မြင်းလှည်း၊ | ၃၀ | ကျပ် |
| (ဂ) | ထော်လာဂျီ (ခရီးသည်/ကုန်မပါ) | ၅၀ | ကျပ် |
| (ဃ) | (၂)တန်အောက်ယာဉ်၊ အခြားယာဉ်များ၊ ကိုယ်ပိုင်ယာဉ်ငယ်များ | ၇၅ | ကျပ် |
| (င) | ဟိုင်းလက်ခရီးသည်တင်ယာဉ် | ၂၀၀ | ကျပ် |
| (စ) | (၂)တန်မှ (၅)တန်အောက်ယာဉ် | ၂၅၀ | ကျပ် |
| (ဆ) | (၅)တန်ရှိ ခရီးသည်တင်ယာဉ် | ၄၅၀ | ကျပ် |
| (ဇ) | (၅)တန်မှ (၁၀)တန်အောက် ကုန်တင်ယာဉ်ကြီး | ၇၀၀ | ကျပ် |
| (ဈ) | (၁၀)တန်မှ(၂၀)တန်အထိ ကုန်တင်ယာဉ်ကြီး | ၁၀၀၀ | ကျပ် |

မှတ်ချက်။ ။ (ကုန်+ ယာဉ်) ၂၀ တန်ထက်ကျော်သော ယာဉ်များအတွက် တန်ပိုကြေး အဖြစ် (၁)တန်လျှင် ၃၀၀ ကျပ် နှုန်း၊

ခရီးသည်(သို့မဟုတ်) ကုန်တင်ဆောင်လာသည့် ထော်လာဂျီယာဉ် ၂၀၀ ကျပ်နှုန်း

နောက်ဆက်တွဲ (ခ)

**စစ်ကိုင်း-မုံရွာ လမ်းအပိုင်း (ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက်) အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက်<br>ကုမ္ပဏီ မှတ်ပုံတင် အမှတ်၊ ၂၆၃/၂၀၀၇-၂၀၀၈<br>(၃-၈-၂၀၀၇) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးအောင်ဇော်နိုင်(အုပ်ချုပ်မှုဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - စစ်ကိုင်း-မုံရွာ လမ်း အပိုင်း အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း တံတား အသုံးပြုခ ကောက်ခံ ခြင်း လုပ်ငန်း ။ |
| ၄။ | လုပ်ငန်းတည်နေရာ<br>(လမ်းအရှည်မိုင်) | - စစ်ကိုင်း-မုံရွာအပိုင်း (မိုင်တိုင် ၁၂/၃ မှ ၈၄/၁ ထိ)<br>၇၁ မိုင် ၆ ဖာလုံ<br>မြင်းမူမြို့ရှောင်လမ်း (မိုင်တိုင် ၀/၀ မှ ၁/၅ထိ)<br>၁မိုင် ၅ ဖာလုံ<br>စုစုပေါင်း (၇၃မိုင် ၃ ဖာလုံ ) |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>- ငွေပမာဏ<br>(ဆောက်လုပ်ရေးစရိတ်)<br>- အဆောက်အဦ<br>- စက်ပစ္စည်းကိရိယာများ<br>- လုပ်ငန်းသုံးမော်တော်ယာဥ်များ<br>- လုပ်ငန်းသုံးလောင်စာဆီနှင့် ချောဆီများ<br>- ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ | - ကျပ် ၂၉၈၂၂.၄၉ သန်း (US$ ၂၄.၀၀ သန်းအပါအဝင်)<br>၂၇၅၅၁.၈၇ (ဈေးငွေကျပ်သန်း၁၀၀၀အပါအဝင်)<br><br>၉၁၁.၂၂<br>၁၀၂၈.၉၁ (US$ ၅.၄၂ သန်းအပါအဝင်)<br>၁၇၂.၁၀<br>၁၁၁.၄၇ (US$ ၁၈.၅၈ သန်းအပါအဝင်)<br><br>၄၆.၉၂ |
| ၆။ | လမ်းတံတား အသုံးပြုခ ကောက်ခံမည့် ဂိတ်တည်နေရာ | အသွားခရီးအတွက်<br>- မိုင်တိုင်အမှတ် ၂၂/၀-၂ ကြား (ပင်မဓါတ်အားခွဲရုံဘေး)<br>အပြန်ခရီးအတွက်<br>မိုင်တိုင်အမှတ် ၇၇/၇ - ၇၈/၁ ကြား |

| | | |
|---|---|---|
| ၇။ | ဝင်ငွေ (အမြတ်စတင်ရရှိသည့် လုပ်ငန်းသက်တမ်း ၁၇ နှစ် မြောက် ဝင်ငွေအား ကောက်နုတ် တင်ပြထားခြင်းဖြစ်ပါသည်။) | - ကျပ် ၂၀၀၉. ၅၂ သန်း |
| ၈။ | အသားတင်အမြတ် | ကျပ် ၄၉.၀၇ သန်း |
| ၉။ | အရင်းကြေကာလ | (၃၅) နှစ် |
| ၁၀။ | အရင်းအနှီးအပေါ်အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | ၁.၄၂ % |
| ၁၁။ | နိုင်ငံတော်မှရရှိမည့်အကျိုး အမြတ် | |
| | - ဝင်ငွေခွန် | ကျပ် ၂၁.၀၃ သန်း |
| | - လမ်းတံတားဖြတ်သန်းခ ရငွေ | ကျပ် ၂၀၀.၉၅ သန်း |
| ၁၂။ | လုပ်သားအင်အား (ပြည်တွင်း) | (၁၀၉) ဦး |
| ၁၃။ | ကတိဝန်ခံချက်များ | - နိုင်ငံတော် အစိုးရမှ သတ်မှတ် ပြဌာန်းမည့် စည်းကမ်း သတ်မှတ်ချက် များကို လိုက်နာ ဆောင်ရွက်မည် ဖြစ် ကြောင်း ဝန်ခံကတိပြု ထားပါသည်။ |
| ၁၄။ | အခွန်ကင်းလွတ်ခွင့်/ သက်သာခွင့် | - မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ၁၃ ပါ အခွန်အကောက် ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရပါမည်။ |

နောက်ဆက်တွဲ (ဂ)

**အုန်းတော-ရွှေဘိုလမ်းအပိုင်း(ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက်) အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု ကုမ္ပဏီလီမိတက်<br>ကုမ္ပဏီ မှတ်ပုံတင် အမှတ်၊ ၂၆၃/၂၀၀၇-၂၀၀၈<br>(၃-၈-၂၀၀၇) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးအောင်ဇော်နိုင်(အုပ်ချုပ်မှုဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - အုန်းတော-ရွှေဘို လမ်းအပိုင်းအား B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍လမ်းတံတားအသုံးပြုခကောက်ခံခြင်း လုပ်ငန်း ။ |
| ၄။ | လုပ်ငန်းတည်နေရာ<br>(လမ်းအရှည်မိုင်) | - မန္တလေး-စစ်ကိုင်း-ရွှေဘိုလမ်း၏ အုန်းတော-ရွှေဘိုအပိုင်း မိုင်တိုင် ၂၇/၀ မှ ၇၀/၀ ထိ (၄၃ မိုင်) |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၂၃၇၅၇.၀၈ သန်း (US$ ၃.၈၄ သန်းအပါအဝင်)<br>၂၂၉၇၅.၆၉ |
| | - ငွေပမာဏ<br>(ဆောက်လုပ်ရေးစရိတ်) | |
| | - အဆောက်အဦ | ၃၉၂.၈၂ |
| | - စက်ပစ္စည်းကိရိယာများ | ၂၈၈.၀၁ (US$ ၁.၄၄ သန်း) |
| | - လုပ်ငန်းသုံးမော်တော်ယာဉ်များ | ၇၆.၀၀ |
| | - လုပ်ငန်းသုံးလောင်စာဆီနှင့် ချောဆီများ | ၁၄.၄၃ (US$ ၂.၄၀ သန်း) |
| | - ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ | ၁၀.၁၃ |
| ၆။ | လမ်းတံတား အသုံးပြုခ ကောက်ခံမည့် ဂိတ်တည်နေရာ | - အသွား/အပြန် ခရီးအတွက်<br>မိုင်တိုင်အမှတ်(၅၇/၆) |
| ၇။ | ဝင်ငွေ (အမြတ်စတင်ရရှိသည့် လုပ်ငန်းသက်တမ်း ၂၀ နှစ် မြောက် ဝင်ငွေအား ကောက်နုတ် တင်ပြထားခြင်းဖြစ်ပါသည်။) | - ကျပ် ၁၆၀၀.၈၂ သန်း |
| ၈။ | အသားတင်အမြတ် | ကျပ် ၅၁.၈၁ သန်း |

| | | |
|---|---|---|
| ၉။ | အရင်းကြေကာလ | (၃၇ ) နှစ် |
| ၁၀။ | အရင်းအနှီးအပေါ်အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | ၁.၀၁ % |
| ၁၁။ | နိုင်ငံတော်မှရရှိမည့်အကျိုး အမြတ်<br>- ဝင်ငွေခွန်<br>- လမ်းတံတားဖြတ်သန်းခ ရငွေ | <br><br>ကျပ် ၂၂.၂၁ သန်း<br>ကျပ် ၁၆၀.၀၈ သန်း |
| ၁၂။ | လုပ်သားအင်အား (ပြည်တွင်း) | (၉၁) ဦး |
| ၁၃။ | ကတိဝန်ခံချက်များ | - နိုင်ငံတော် အစိုးရမှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက် များကို လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြု ထားပါသည်။ |
| ၁၄။ | အခွန်ကင်းလွတ်ခွင့်/ သက်သာခွင့် | - မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် ၁၃ ပါ အခွန် အကောက် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ ကို ခံစားခွင့်ပြုရ ပါမည်။ |

နောက်ဆက်တွဲ (ဃ)

## ညောင်ဦး-မြင်းခြံလမ်းအပိုင်း (မြတ်နိုးသူဆောက်လုပ်ရေးကုမ္ပဏီလီမိတက်) အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - မြတ်နိုးသူဆောက်လုပ်ရေးကုမ္ပဏီလီမိတက်<br>ကုမ္ပဏီ မှတ်ပုံတင် အမှတ်၊ ၈၇၆/၂၀၀၈-၂၀၀၉<br>(၁၃-၁၀-၂၀၀၈) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးကျော်စိုးလွင်(အုပ်ချုပ်မှုဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ညောင်ဦး-မြင်းခြံလမ်းအပိုင်း အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ။ |
| ၄။ | လုပ်ငန်းတည်နေရာ<br>(လမ်းအရှည်မိုင်) | - ပုဂံ-ညောင်ဦး-မြင်းခြံလမ်း၏ ညောင်ဦး-မြင်းခြံ အပိုင်း (မိုင်တိုင် ၀/၀ မှ ၄၀/၂ ထိ)(၄၀ မိုင် ၂ ဖာလုံ) |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>- ငွေပမာဏ<br>(ဆောက်လုပ်ရေးစရိတ်)<br>- အဆောက်အဦ<br>- စက်ပစ္စည်းကိရိယာများ | - ကျပ် ၅၉၇၀.၂၈ သန်း (US$ ၁.၂၈ သန်းအပါအဝင်)<br>၅၃၇၂.၆၀<br><br>၅၉၀.၀၀<br>၇.၆၈ (US$ ၁.၂၈ သန်း) |
| ၆။ | လမ်းတံတား အသုံးပြုခ<br>ကောက်ခံမည့် ဂိတ်တည်နေရာ | - အသွားခရီးအတွက်<br>ညောင်ဦးဂိတ် မိုင်တိုင် ၂/၆<br>- အပြန်ခရီးအတွက်<br>မြင်းခြံဂိတ် မိုင်တိုင် ၃၈/၂ |
| ၇။ | ဝင်ငွေ (တည်ဆောက်ရေး ကာလ ပြီး လုပ်ငန်း သက်တမ်း ၇ နှစ် မြောက် ဝင်ငွေအား ကောက်နုတ် တင်ပြထားခြင်းဖြစ်ပါသည်။) | - ကျပ် ၄၄၈.၉၁ သန်း |
| ၈။ | အသားတင်အမြတ် | ကျပ် ၅၈.၉၄ သန်း |
| ၉။ | အရင်းကြေကာလ | (၂၆) နှစ် နှင့် (၇)လ |
| ၁၀။ | အရင်းအနှီးအပေါ်အကျိုး<br>အမြတ် ပြန်ပေါ်နှုန်း (IRR) | ၂.၆၂ % |

| | | |
|---|---|---|
| ၁၁။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ်<br>- ဝင်ငွေခွန်<br>- လမ်းတံတားဖြတ်သန်းခ ရငွေ | <br><br>ကျပ် ၂၅.၂၆ သန်း<br>ကျပ် ၂၂.၄၅ သန်း |
| ၁၂။ | လုပ်သားအင်အား (ပြည်တွင်း) | (၃၂) ဦး |
| ၁၃။ | ကတိဝန်ခံချက်များ | - နိုင်ငံတော် အစိုးရမှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက် များကို လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြု ထားပါသည်။ |
| ၁၄။ | အခွန်ကင်းလွတ်ခွင့်/သက်သာခွင့် | - မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် ၁၃ ပါ အခွန်အကောက်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ ကို ခံစားခွင့်ပြုရပါမည်။ |

## ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဥ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/<br>အစုရှင်များအမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | ရွှေတောင်ဖွံ့ဖြိုးတိုးတက်မှု<br>ကုမ္ပဏီလီမိတက်<br>(Shwe Taung<br>Development Co., Ltd.) | ၁။ဦးအိုက်ထွန်း<br>(ဥက္ကဋ္ဌ) | အမှတ်(၁၄/ခ)၊ မြစ်ကမ်းသာအိမ်ရာ၊<br>ဆင်မင်းရပ်ကွက်၊ အလုံမြို့နယ်၊ ရန်ကုန်။ |
| | | ၂။ဦးအောင်ဇော်နိုင်<br>(အုပ်ချုပ်မှုဒါရိုက်တာ) | အခန်း(၁၀၀၃)၊အိုလံပစ်တာဝါ-၂၊<br>မြစ်ကမ်းသာအိမ်ရာ၊ဆင်မင်းရပ်ကွက်၊<br>အလုံမြို့နယ်၊ ရန်ကုန်။ |
| | | ၃။ ဦးအောင်သန်း<br>(ဒုတိယအုပ်ချုပ်မှုဒါရိုက်တာ) | အမှတ်(၁)၊ဒဂုံလွင်လမ်း၊ တာမွေလေး<br>ရပ်ကွက်၊တာမွေမြို့နယ်၊ ရန်ကုန်။ |
| | | ၄။ ဦးရဲမြင့်<br>(ဒုတိယအုပ်ချုပ်မှုဒါရိုက်တာ) | အမှတ်(၂)၊ဒဂုံလွင်လမ်း၊<br>တာမွေလေးရပ်ကွက်၊တာမွေမြို့နယ်၊<br>ရန်ကုန်။ |
| | | ၅။ ဒေါ်စန္ဒာထွန်း<br>(ဒုတိယအုပ်ချုပ်မှုဒါရိုက်တာ) | အမှတ်(၁၄/ခ)၊ မြစ်ကမ်းသာအိမ်ရာ၊<br>ဆင်မင်းရပ်ကွက်၊ အလုံမြို့နယ်၊ ရန်ကုန်။ |
| | | ၆။ ဦးဝင်းဌေး<br>(ဒုတိယအုပ်ချုပ်မှုဒါရိုက်တာ) | အမှတ်-၅၊ ဘုံကျောင်းလမ်း၊ တာမွေလေး<br>ရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်။ |
| | | ၇။ ဦးထွန်းအောင်စန်း<br>(ဒါရိုက်တာ) | အမှတ်-၄၊ သစ္စာဝတီလမ်း၊ တာမွေလေး<br>ရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်။ |
| | | ၈။ ဦးထွန်းအောင်ရွှေ<br>(ဒါရိုက်တာ) | အမှတ်-၁၄/ခ ၊ သုဇာတာလမ်း၊<br>သုမင်္ဂလာအိမ်ရာ၊ သင်္ဃန်းကျွန်း မြို့နယ်၊<br>ရန်ကုန်။ |
| | | ၉။ ဦးဟန်သိန်းလွင်<br>(ဒါရိုက်တာ) | အမှတ်-၈၁၊ ပိတောက်လမ်း၊ အေးရိပ်မွန်<br>အိမ်ရာ၊ လှိုင်မြို့နယ်၊ ရန်ကုန်။ |
| | | ၁၀။ ဦးချမ်းမြ<br>(ဒါရိုက်တာ) | အခန်း(၇၀၂)၊ ကမ်းနားလမ်း၊<br>အိုလံပစ်တာဝါ-၂ ၊ ဆင်မင်းရပ်ကွက်၊<br>အလုံမြို့နယ်၊ ရန်ကုန်။ |
| | | ၁၁။ ဦးမျိုးနောင်<br>(ဒါရိုက်တာ) | မေခအိမ်ရာ၊ လေးထောင့်ကန်လမ်း၊<br>သင်္ဃန်းကျွန်းမြို့နယ်၊ ရန်ကုန်။ |

